# မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင်

## ခွင့်ပြုမိန့်

(မနသ-၂)
စာအမှတ် ......
နေ့စွဲ ၁၀.၁.၂၀၀၁

ခွင့်ပြုမိန့်အမှတ်၊ မနသ-...၄၆၂...../၂၀၀၁။ ၂၀၀၁ ခုနှစ်၊ ဇန်နဝါရီလ ၁၀ ရက်။

မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင်သည် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေပုဒ်မ ၁၀ အရ ဤခွင့်ပြုမိန့်ကို ထုတ်ပေးလိုက်သည်။

(က) ရင်းနှီးမြှုပ်နှံသူ၏ အမည် ...ဦး ဇော်လေး...

(ခ) အဘအမည် ...ဦး ဝင်းမြင့်...

(ဂ) နိုင်ငံသား/အမျိုးသားမှတ်ပုံတင်အမှတ် ၁၂/လကန (နိုင်) ၀၄၅၃၆၃...

(ဃ) နေရပ်လိပ်စာ တိုက်အမှတ် (၂၁၆/၂၂၂)၊ အခန်း နံပါတ် ၆ (ဃ)၊ ၄၉လမ်း၊ ဗိုလ်မြတ်ထွန်း အိမ်ယာ၊ ပုဇွန်တောင်မြို့နယ်၊ ရန်ကုန်မြို့...

(င) ဖွဲ့စည်းထားသည့် သို့မဟုတ် ဖွဲ့စည်းမည့်အဖွဲ့အစည်း ငါးလုပ်ငန်းနှင့်ပင်လယ်ထွက်ကုန်များ ၂၀၀၀လီမိတက် (Fisheries and Marine Products 2000 Ltd.)

(စ) ရင်းနှီးမြှုပ်နှံမှုပြုလုပ်မည့် လုပ်ငန်းအမျိုးအစား ရေခဲစက်၊ ငါးပုဇွန်များပြုပြင်ထုတ်လုပ်ရောင်းချခြင်းနှင့်ငါး စည်သွတ်ဘူးထုတ်လုပ်ရောင်းချခြင်းလုပ်ငန်း၊ဆိပ်ခံတံတားနှင့်လွန်းကျင်း တည်ဆောက်၍ ငါးကုန်တင်ကုန်ချနှင့်ငါးဖမ်းသင်္ဘောပြုပြင်ထိန်းသိမ်းခြင်းလုပ်ငန်း

(ဆ) ရင်းနှီးမြှုပ်နှံမှုပြုလုပ်သည့် အရပ်ဒေသ(များ) မြေတိုင်းရပ်ကွက်အမှတ် ၂/၂၊ အနောက်ကြို့ကုန်း ရပ်ကွက်၊ အင်းစိန်မြို့နယ်၊ ရန်ကုန်တိုင်း (ငါးလုပ်ငန်းဦးစီးဌာနပိုင်မြေ)

(ဇ) မတည်ငွေရင်းပမာဏ(ကျပ်) ...(၃၆၅.၃၇) သန်းကျော် (ကျပ်သုံးရာခြောက်ဆယ့်ငါးသန်းနှင့်သုံးသိန်းခုနစ်သောင်းကျော်)

ဥက္ကဋ္ဌ
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်
အမိန့် ကြော်ငြာစာအမှတ်၊ ၅/၂၀၀၁ (မနသ)
ရန်ကုန်မြို့၊ ၁၃၆၂ ခုနှစ်၊ ပြာသိုလပြည့်ကျော် ၂ ရက်
(၂၀၀၁ ခုနှစ်၊ ဇန်နဝါရီလ ၁၀ ရက်)

၁။ မြန်မာ ကုမ္ပဏီဖြစ်သော ငါးလုပ်ငန်းနှင့် ပင်လယ်ထွက်ကုန်များ ၂၀၀၀ လီမိတက် (Fisheries and Marine Products 2000 Ltd.) မှ ရန်ကုန်တိုင်း၊ အင်းစိန်မြို့နယ်၊ အနောက်ကြို့ကုန်းရပ်ကွက်၊ မြေတိုင်းရပ်ကွက် အမှတ် ၂/၂ ရှိ မွေးမြူရေးနှင့် ရေလုပ်ငန်း ဝန်ကြီးဌာန၊ ငါးလုပ်ငန်း ဦးစီးဌာနပိုင် မြေ (၁၀.၇၉) ဧက (၄၃၆၆၅.၆၂ စတုရန်းမီတာ) အား ကနဦး (၂၀)နှစ် ငှားရမ်း၍ အအေးခန်းနှင့်၊ ရေခဲစက်ရုံ၊ စည်သွတ်စက်ရုံ၊ လွန်းကျင်းနှင့် ဆိပ်ခံဘောတံတား တည်ဆောက်၍ ငါးကုန်တင်ကုန်ချနှင့် ငါးဖမ်းသင်္ဘော ပြုပြင် ထိန်းသိမ်းခြင်း လုပ်ငန်းကို မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြု တင်ပြချက်အား (၁၃-၁၁-၂၀၀၀)နေ့တွင် ကျင်းပပြုလုပ်ခဲ့သည့် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်၏ (၃၇/၂၀၀၀) ကြိမ်မြောက် အစည်းအဝေးသို့ တင်ပြခဲ့ပါသည်။ ကော်မရှင်မှ မူအားဖြင့် သဘောတူညီခဲ့ပြီး (၃၀-၁၁-၂၀၀၀) နေ့တွင် ကျင်းပပြုလုပ်သည့် ကုန်သွယ်မှု မူဝါဒ ကောင်စီ၏ (၁၅/၂၀၀၀) ကြိမ်မြောက် အစည်းအဝေးသို့ ဆက်လက်တင်ပြခဲ့ပါသည်။ အဆိုပါ အစည်းအဝေး သဘောတူညီချက်အရ အစိုးရအဖွဲ့သို့ ဆက်လက်တင်ပြရန် ဆုံးဖြတ်ချက်နှင့်အညီ (၂၈-၁၂-၂၀၀၀) နေ့တွင် ကျင်းပပြုလုပ်သည့် ပြည်ထောင်စု မြန်မာနိုင်ငံတော် အစိုးရအဖွဲ့၏ (၄၈/၂၀၀၀) ကြိမ်မြောက် အစည်းအဝေးသို့ တင်ပြခဲ့ရာ အစည်းအဝေးမှ သဘောတူကြောင်း ဆုံးဖြတ်ခဲ့ပါသည်။ အဆိုပါ ဆုံးဖြတ်ချက်အရ မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်သည် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေ အခန်း (၅)၊ ပုဒ်မ ၁၀ အရ အပ်နှင်းထားသော လုပ်ပိုင်ခွင့်များကို ကျင့်သုံးလျက် ငါးလုပ်ငန်းနှင့် ပင်လယ် ထွက်ကုန်များ ၂၀၀၀ လီမိတက် (Fisheries and Marine Products 2000 Ltd.) အား အအေးခန်းနှင့် ရေခဲစက်ရုံ၊ စည်သွတ်စက်ရုံ၊ လွန်းကျင်းနှင့် ဆိပ်ခံဘောတံတား တည်ဆောက်၍ ငါးကုန်တင်ကုန်ချနှင့် ငါးဖမ်းသင်္ဘော ပြုပြင် ထိန်းသိမ်းခြင်း လုပ်ငန်း ဆောင်ရွက်နိုင်ရန်အတွက် ခွင့်ပြုမိန့် အမှတ်၊ မနသ- ၄၆၂/၂၀၀၁ ကို ထုတ်ပေးလိုက်သည်။

၂။ ငါးလုပ်ငန်းနှင့် ပင်လယ် ထွက်ကုန်များ ၂၀၀၀ လီမိတက် (Fisheries and Marine Products 2000 Ltd.)အနေဖြင့် ဤ ခွင့်ပြုမိန့်အရ ထုတ်လုပ်မှု လုပ်ငန်း ဆောင်ရွက်ရာတွင် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေ အခန်း(၇)၊ ပုဒ်မ ၁၂ အရ ကုန်ထုတ်လုပ်မှု၊ ဝန်ဆောင်မှု လုပ်ငန်းစတင်သော နှစ်အပါအဝင် တစ်ဆက်တည်း (၃)နှစ် အတွက် ဝင်ငွေခွန် ကင်းလွတ်ခွင့်နှင့် ဥပဒေ ပုဒ်မ ၁၃ ပါ ပြဋ္ဌာန်းချက်များနှင့်အညီ အောက်ဖော်ပြပါ အခွန်ကင်းလွတ်ခွင့်နှင့် သက်သာခွင့်များကို ခံစားခွင့်ပြုနိုင်ရန် ဤအမိန့် ကြော်ငြာစာကို ထုတ်ပြန်လိုက်သည်။

(က) ဥပဒေပုဒ်မ ၁၃(က)အရ လုပ်ငန်း၏ ရင်းနှီးမြှုပ်နှံမှုတွင် ပါဝင်သော နိုင်ငံခြားငွေ ပမာဏ အပေါ် မူတည်၍ ဝင်ငွေခွန် သက်သာခွင့် ခံစားနိုင်ရန်အတွက် ကနဦး ရင်းနှီးမြှုပ်နှံမှု ကာလ အတွင်း နိုင်ငံခြားငွေဖြင့် ရင်းနှီးမြှုပ်နှံသည့်ပမာဏကို ဖော်ပြလျက် လုပ်ငန်းအကောင်အထည် ဖော်မှု အခြေအနေပေါ် မူတည်၍ ဤကော်မရှင်သို့ တင်ပြလျှောက်ထားရမည်။

(ခ) ဥပဒေပုဒ်မ ၁၃(ခ)အရ လုပ်ငန်းက နိုင်ငံခြားသို့ တင်ပို့ရောင်းချခြင်းမှ နိုင်ငံခြားငွေဖြင့် ရရှိသည့် အမြတ်ငွေအပေါ်တွင် (၅၀) ရာခိုင်နှုန်းအထိ ကာလအကန့်အသတ်ဖြင့် ဝင်ငွေခွန်

သက်သာခွင့် ခံစားနိုင်ရန်အတွက် ဝင်ငွေခွန် ကင်းလွတ်ခွင့် (၃) နှစ်ခံစားပြီးနောက် လုပ်ငန်း၏ အမှန်တကယ်အကောင်အထည်ဖော်နိုင်မှုအခြေအနေကိုဖော်ပြလျက် ဤကော်မရှင်သို့တင်ပြ လျှောက်ထားရမည်။

(ဂ) ဥပဒေပုဒ်မ ၁၃(ဂ)အရ ထုတ်လုပ်မှု၊ ဝန်ဆောင်မှု လုပ်ငန်းကြောင့် သတ်မှတ်သည့် နှုန်းအထိ ပြည်တွင်း ပြည်ပဝင်ငွေတိုးတက်မှုရှိပါက သတ်မှတ်ချက်နှင့်အညီ ဝင်ငွေခွန် သက်သာခွင့်ခံစား နိုင်ရန်အတွက်ဝင်ငွေခွန်ကင်းလွတ်ခွင့်ကာလ ကုန်ဆုံးပြီးသည့်အခါ လုပ်ငန်းအကောင်အထည် ဖော်ဆောင်ရွက်နိုင်မှု အခြေအနေကို ဖော်ပြလျက် ဤကော်မရှင်သို့ တင်ပြလျှောက်ထားရမည်။

(ဃ) ဥပဒေပုဒ်မ ၁၃(စ)အရ လုပ်ငန်းမှ ရရှိသည့် အမြတ်ငွေကို သီးသန့် ရန်ပုံငွေထား၍ တစ်နှစ် အတွင်းလုပ်ငန်း၌ ပြန်လည်ရင်းနှီးမြှုပ်နှံလျှင် ထိုအမြတ်ငွေအပေါ်တွင် ဝင်ငွေခွန် ကင်းလွတ် ခွင့်(သို့မဟုတ်) သက်သာခွင့် ခံစားနိုင်ရန်အတွက် ဝင်ငွေခွန် ကင်းလွတ်ခွင့်ကာလ ကုန်ဆုံးပြီး၍ အမှန်တကယ် ပြန်လည် ရင်းနှီးမြှုပ်နှံမှုပြုသည့်အခါ လုပ်ငန်း အမှန်တကယ် အကောင်အထည် ဖော်နိုင်မှု အခြေအနေကိုဖော်ပြလျက် ဤကော်မရှင်သို့ တင်ပြလျှောက်ထားရမည်။

(င) ဥပဒေပုဒ်မ ၁၃(ဆ)အရ လုပ်ငန်းသုံး မတည်ပစ္စည်းများ အပေါ်တန်ဖိုးလျော့ငွေ ကို သတ်မှတ် သည့် နှုန်းအတိုင်း နှစ်တိုတို နှင့် မူလတန်ဖိုး ပြည့်မီသည်အထိ အမြတ်ငွေမှ နုတ်ပယ်ခွင့်နှင့် စပ်လျဉ်း၍ ယင်းတန်ဖိုးလျော့ နှုန်းထားများကို ဤကော်မရှင်သို့ တင်ပြ လျှောက်ထားရမည်။

(စ) ဥပဒေပုဒ်မ ၁၃(ဇ)အရ ကနဦး ရင်းနှီးမြှုပ်နှံမှု ကာလအတွင်း ပြည်တွင်း၌ မရရှိနိုင်သည့် အမှန်တကယ် လိုအပ်၍ ပြည်ပမှတင်သွင်းသော စက်ပစ္စည်း၊ စက်အရန်ပစ္စည်း၊ စက်ကိရိယာ အစိတ်အပိုင်း၊လုပ်ငန်းသုံးပစ္စည်းများအပေါ်အကောက်ခွန်နှင့် အခြားပြည်တွင်းအခွန်အကောက် များကိုကင်းလွတ်ခွင့်ပြုသည်။

(ဆ) ဥပဒေပုဒ်မ ၁၃(ဈ)အရ သတ်မှတ်ထားသည့် ကနဦး ရင်းနှီးမြှုပ်နှံမှု ကာလကုန်ဆုံး၍ ပထမ (၃)နှစ်အတွက် ကုန်ထုတ်လုပ်ရန် ပြည်ပမှတင်သွင်းသည့် လုပ်ငန်းသုံးပစ္စည်းများ အပေါ်တွင် အကောက်ခွန်နှင့် အခြားပြည်တွင်း အခွန်အကောက်များကို ကင်းလွတ်ခွင့်ပြုသည်။

၃။ မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေပုဒ်မ ၁၃(ဇ) နှင့် (ဈ) အရ ပြည်ပမှ တင်သွင်းသည့် စက်ပစ္စည်းများ၊ စက်အရန်ပစ္စည်းများ၊ လုပ်ငန်းသုံးပစ္စည်းများနှင့် ပတ်သက်၍ အောက်ပါအတိုင်း လိုက်နာ ဆောင်ရွက်ရမည်။

(က) ပြည်ပမှတင်သွင်းမည့် ပစ္စည်းများအတွက် နိုင်ငံခြားငွေ ရရှိပုံနည်းလမ်း (Source of Payments for Import) ဥပမာ – ပြည်ပတင်ပို့မှု မှ ဝင်ငွေ၊ ပြည်ပချေးငွေ (Loan and Credits)၊ ကုန်ပစ္စည်း ပြန်လည် ဝယ်ယူသည့်စနစ် (Buy-back System)၊ ရွှေ့ဆိုင်းငွေပေး ချေစနစ် (Deferred Payment System)စသည်တို့ကို ဖော်ပြရန်။

(ခ) တင်သွင်းမည့် ပစ္စည်းအမျိုးအစား၊ အရည်အသွေး၊ စံချိန်စံညွှန်းများ၊ ဈေးနှုန်းများ သင့်မြတ်မှု စသည်တို့နှင့် စပ်လျဉ်း၍ နိုင်ငံတကာ အသိအမှတ်ပြုထားသည့် စစ်ဆေးရေးကိုယ်စားလှယ် (Inspection Agency) ၏ စစ်ဆေးမှုဖြင့် ဆောင်ရွက်ရန်။

(ဂ) စစ်ဆေးရေးကိုယ်စားလှယ်၏စစ်ဆေးပြီးကြောင်းအထောက်အထား(Inspection Certificate) ဖြင့် တင်သွင်းမည့် ပစ္စည်းအမျိုးအစား စာရင်း (Invoice and Packing List) များကို နိုင်ငံခြား မတည်ငွေရင်းတန်ဖိုး သတ်မှတ်ရေးအဖွဲ့ငယ်သို့ တင်ပြ၍ ထောက်ခံချက် ရယူရန်။

၄။ ငါးလုပ်ငန်းနှင့် ပင်လယ် ထွက်ကုန်များ ၂၀၀၀ လီမိတက် (Fisheries and Marine Products 2000 Ltd.) သည် လုပ်ငန်းအတွက် ပြည်ပမှစက်ပစ္စည်းများ၊ စက်အရန်ပစ္စည်းများ၊ လုပ်ငန်းသုံးပစ္စည်းများကို ပြည်ပ ချေးငွေ (Loan and Credits)၊ ကုန်ပစ္စည်းပြန်လည်ဝယ်ယူသည့်စံနစ် (Buy-back System)၊ ရွှေ့ဆိုင်းငွေပေး ချေစံနစ် (Deferred Payment System) စသည်တို့ဖြင့် ဝယ်ယူတင်သွင်းပြီး၊ ပြန်လည် ပေးဆပ်သည့်အခါ အဆိုပြုလုပ်ငန်းမှ ရရှိသည့် တရားဝင် နိုင်ငံခြားငွေဖြင့်သာ ပေးဆပ်ရမည်။

၅။ အဆိုပြုလုပ်ငန်းအတွက် ပြည်ပမှ စက်ပစ္စည်းများ၊ စက်အရန်ပစ္စည်းများနှင့် လုပ်ငန်းသုံး ပစ္စည်းများကို ပြည်ပချေးငွေ (Loan and Credits)၊ ကုန်ပစ္စည်း ပြန်လည်ဝယ်ယူသည့်စံနစ် (Buy-back System)၊ ရွှေ့ဆိုင်း ငွေပေးချေစံနစ် (Deferred Payment System)စသည်တို့ဖြင့် ရယူဆောင်ရွက်ခြင်းသည် နိုင်ငံတော်နှင့် သက်ဆိုင်ခြင်း မရှိဘဲ ချေးငွေပေးသူနှင့် ယူသူတို့၏ တာဝန်သာ ဖြစ်စေရမည်။

၆။ ငါးလုပ်ငန်းနှင့် ပင်လယ် ထွက်ကုန်များ ၂၀၀၀ လီမိတက် (Fisheries and Marine Products 2000 Ltd.) သည် ဤခွင့်ပြုမိန့်အရ လုပ်ငန်း ဆောင်ရွက်ရာတွင် မူလအဆိုပြုလွှာ၌ ဖော်ပြထားသည့် ထုတ်လုပ်မှုနှင့် ပြည်ပတင်ပို့မှု ရည်မှန်းချက်များကို အနိမ့်ဆုံး ရည်မှန်းချက်များ အဖြစ် ထားရှိဆောင်ရွက် အကောင်အထည် ဖော်ရမည်။

၇။ ငါးလုပ်ငန်းနှင့် ပင်လယ်ထွက်ကုန်များ ၂၀၀၀ လီမိတက် (Fisheries and Marine Products 2000 Ltd.) မှ ထုတ်လုပ်သည့် ငါးစည်သွပ်ဘူးများကို ဖြန့်ဖြူးရောင်းချခြင်း မပြုမီ၊ ကျန်းမာရေး ဝန်ကြီးဌာန မြန်မာနိုင်ငံ အစားအသောက်နှင့် ဆေးဝါးအာဏာပိုင်အဖွဲ့၏ စစ်ဆေးမှုကိုခံယူရမည်။ ထုတ်လုပ်သည့် ကုန်ချောများ သတ်မှတ်သည့် စံချိန်စံညွှန်း (Standard) များနှင့် ကိုက်ညီမှု မရှိပါက စက်ရုံကို ပိတ်သိမ်းမည် ဖြစ်သည်။

၈။ ငါးလုပ်ငန်းနှင့် ပင်လယ်ထွက်ကုန်များ ၂၀၀၀ လီမိတက် (Fisheries and Marine Products 2000 Ltd.) သည် ဤအဆိုပြု လုပ်ငန်း၏ စာရင်းများကို သီးခြားပြုစုထားရှိရမည်။

၉။ မွေးမြူရေးနှင့် ရေလုပ်ငန်း ဝန်ကြီးဌာန၊ ငါးလုပ်ငန်း ဦးစီးဌာနနှင့် ငါးလုပ်ငန်းနှင့် ပင်လယ် ထွက်ကုန်များ ၂၀၀၀ လီမိတက် (Fisheries and Marine Products 2000 Ltd.) တို့သည် ဤအဆိုပြု လုပ်ငန်း ဆောင်ရွက်ရာတွင် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်မှ အတည်ပြုပြီးဖြစ်သော မြေငှါးရမ်းခြင်း သဘောတူစာချုပ်ပါ စည်းမျဉ်းစည်းကမ်းများအတိုင်း လိုက်နာဆောင်ရွက်ကြရမည်။

၁၀။ အဆိုပြုလုပ်ငန်းကို ဆောင်ရွက်နိုင်ရန်အတွက် မွေးမြူရေးနှင့် ရေလုပ်ငန်း ဝန်ကြီးဌာန၊ ငါးလုပ်ငန်း ဦးစီးဌာနနှင့် ငါးလုပ်ငန်းနှင့် ပင်လယ်ထွက်ကုန်များ ၂၀၀၀ လီမိတက် (Fisheries and Marine Products 2000 Ltd.) တို့၏ မြေငှါးရမ်းခြင်း သဘောတူစာချုပ်ကို လက်မှတ်ရေးထိုးပြီးသည့်အခါ ယင်းသဘောတူ စာချုပ် မိတ္တူ (၅) စောင်ကို ဤကော်မရှင်သို့ မပျက်မကွက် ပေးပို့ တင်ပြရမည်။

၁၁။ မြေငှါးရမ်းကာလမှာ စာချုပ်လက်မှတ်ရေးထိုးသည့်နေ့မှ ကနဦး (၂၀)နှစ် ဖြစ်ပြီး နောက်ထပ် (၅)နှစ် (၂)ကြိမ် သက်တမ်းတိုးမြှင့်ခွင့်အတွက် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်၏ အတည်ပြုချက်ကို ရယူရမည်။

၁၂။ နှစ်စဉ်ငှါးရမ်းခ ငွေကျပ် (၁၉,၆၄၉,၅၂၉) (ကျပ် တစ်ရာ့ ကိုးဆယ် ခြောက်သိန်း လေးသောင်း ကိုးထောင် ငါးရာ နှစ်ဆယ့်ကိုး တိတိ) ကို နှစ်စဉ် ပြက္ခဒိန်နှစ်အလိုက် ပထမလ (၇)ရက်အတွင်း ငါးလုပ်ငန်း ဦးစီးဌာနသို့ ကြိုတင်ပေးချေရမည် ငှါးရမ်းခနှုန်းများကို (၅)နှစ်တစ်ကြိမ်ပြီးခဲ့သော (၅)နှစ်ကာလ၏ နှစ်စဉ် ငှါးရမ်းခနှုန်း၏ (၁၅)ရာခိုင်နှုန်းထက် မပိုစေဘဲ ညှိနှိုင်းရမည်။

၁၃။ အဆိုပြုလုပ်ငန်း ဆောင်ရွက်ရာတွင် မြေအသုံးပြုမှု နှင့် စပ်လျဉ်း၍ နိုင်ငံတော် အစိုးရမှ မြေယာ နှင့် ပတ်သက်၍ သတ်မှတ် ပြဋ္ဌာန်းမည့် စည်းကမ်းသတ်မှတ်ချက်များကို တိကျစွာ လိုက်နာဆောင်ရွက်ရမည်။

၁၄။ ငါးလုပ်ငန်းနှင့် ပင်လယ် ထွက်ကုန်များ ၂၀၀၀ လီမိတက် (Fisheries and Marine Products 2000 Ltd.) မှ နိုင်ငံခြားသား ကျွမ်းကျင်သူများ ငှားရမ်းခွင့် ကိစ္စနှင့် စပ်လျဉ်း၍ မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေဆိုင်ရာ လုပ်ထုံးလုပ်နည်းများ အခန်း(၉)၊ အပိုဒ် ၃၃ပါ သတ်မှတ်ချက်များနှင့်အညီ ဤကော်မရှင်သို့ သီးခြား တင်ပြလျှောက်ထားရမည်။

၁၅။ အဆိုပြုလုပ်ငန်း ဆောင်ရွက်ရန်အတွက် ပြည်တွင်းအလုပ်သမားများ ခန့်ထားရာတွင် အလုပ်သမား ဝန်ကြီးဌာန၊ အလုပ်သမား ညွှန်ကြားရေး ဦးစီးဌာန နှင့် ညှိနှိုင်းဆောင်ရွက်ရမည်။

၁၆။ ငါးလုပ်ငန်းနှင့် ပင်လယ် ထွက်ကုန်များ ၂၀၀၀ လီမိတက် (Fisheries and Marine Products 2000 Ltd.) သည် ဤခွင့်ပြုမိန့်အရ လုပ်ငန်း ဆောင်ရွက်ရာ၌ ပတ်ဝန်းကျင် လေထု၊ ရေထု၊ မြေထု ညစ်ညမ်းမှု၊ မီးဘေးအန္တရာယ် စသည်များ၊ မဖြစ်ပေါ်စေရန်အတွက် လိုအပ်သည့် ပတ်ဝန်းကျင် ညစ်ညမ်းမှု ထိန်းသိမ်း ကာကွယ်ရေး အစီအမံများကို ဇန်နဝါရီ ပြုထားသည့်အတိုင်း စံနှစ်တကျ ထားရှိ ဆောင်ရွက်ရမည်။ ယင်းသို့ ဆောင်ရွက်ထားရှိမှု အခြေအနေကို ဤကော်မရှင်သို့ မပျက်မကွက် အစီရင်ခံရမည်။ ပတ်ဝန်းကျင် အန်ဆိုးများ ဖြစ်ပေါ်စေပြီး၊ ပတ်ဝန်းကျင် ညစ်ညမ်းမှုဖြစ်ပါက စက်ရုံကိုပိတ်သည်အထိ အရေးယူခြင်းခံရမည်။

၁၇။ ငါးလုပ်ငန်းနှင့် ပင်လယ် ထွက်ကုန်များ ၂၀၀၀ လီမိတက် (Fisheries and Marine Products 2000 Ltd.) သည် ဆိပ်ခံဘောတံတား တည်ဆောက်ခြင်း လုပ်ငန်းကို ပို့ဆောင်ရေး ဝန်ကြီးဌာန၏ ခွင့်ပြုချက်ရယူ ပြီးမှသာ ဆောင်ရွက်ရမည်။

၁၈။ ငါးလုပ်ငန်းနှင့် ပင်လယ် ထွက်ကုန်များ ၂၀၀၀ လီမိတက် (Fisheries and Marine Products 2000 Ltd.) သည် ပူးတွဲပါ ကနဦး လုပ်ငန်း ဆောင်ရွက်မှု အစီရင်ခံစာကို ဤခွင့်ပြုမိန့်ရရှိပြီး ၃(သုံး)လအတွင်း ဤကော်မရှင်သို့ မပျက်မကွက် အစီရင်ခံရမည်။

၁၉။ အဆိုပြုလုပ်ငန်း စတင်ဆောင်ရွက်သည့် နေ့ရက်ကို ဤကော်မရှင်သို့ မပျက်မကွက် အစီရင်ခံရမည်။

၂၄။ ညွှန်ကြားရေးမှူးချုပ်၊ လူဝင်မှုကြီးကြပ်ရေးနှင့် အမျိုးသားမှတ်ပုံတင်ရေး ဦးစီးဌာန။
၂၅။ ဦးဆောင်ညွှန်ကြားရေးမှူး၊ မြန်မာ့ လျှပ်စစ်ဓါတ်အား လုပ်ငန်း။
၂၆။ ညွှန်ကြားရေးမှူးချုပ်၊ ငါးလုပ်ငန်း ဦးစီးဌာန။
၂၇။ ညွှန်ကြားရေးမှူးချုပ်၊ မြို့ရွာနှင့် အိုးအိမ်ဖွံ့ဖြိုးရေး ဦးစီးဌာန။
၂၈။ ဥက္ကဋ္ဌ၊ ပြည်ထောင်စု မြန်မာနိုင်ငံ ကုန်သည်များနှင့် စက်မှုလက်မှုလုပ်ငန်းရှင်များ အသင်းချုပ်။
၂၉။ မန်နေဂျင်း ဒါရိုက်တာ၊ ငါးလုပ်ငန်းနှင့် ပင်လယ်ထွက်ကုန်များ ၂၀၀၀ လီမိတက် (Fisheries and Marine Products 2000 Ltd.)။

၂၀။ ဤခွင့်ပြုမိန့် ထုတ်ပေးသည့် နေ့မှစ၍ တစ်နှစ်အတွင်း အဆိုပြုလုပ်ငန်း စတင် ဆောင်ရွက်ခြင်း မပြုနိုင်ပါက ဤခွင့်ပြုမိန့်သည် အလိုအလျောက် ပျက်ပြယ်ပြီးဖြစ်သည်ဟု မှတ်ယူရမည်။

( ဦးသောင်း )

ဥက္ကဋ္ဌ

စာအမှတ်၊ ရက–၁/မ–၆၅၇/၂၀၀၀ (၃၁၁၃–၈)

ရက်စွဲ၊ ၂၀၀၁ ခုနှစ်၊ ဇန်နဝါရီလ ၁၀ ရက်။

ဖြန့်ဝေခြင်း–

၁။ နိုင်ငံတော် အေးချမ်းသာယာရေး နှင့် ဖွံ့ဖြိုးရေး ကောင်စီ ဥက္ကဋ္ဌရုံး။

၂။ နိုင်ငံတော် အေးချမ်းသာယာရေး နှင့် ဖွံ့ဖြိုးရေး ကောင်စီ ရုံး။

၃။ အစိုးရအဖွဲ့ရုံး။

၄။ စစ်မဟာဗျူဟာ လေ့လာရေးရုံး၊ ကာကွယ်ရေး ဝန်ကြီးဌာန။

၅။ အမျိုးသား စီမံကိန်း နှင့် စီးပွားရေး ဖွံ့ဖြိုးတိုးတက်မှု ဝန်ကြီးဌာန။

၆။ အလုပ်သမား ဝန်ကြီးဌာန။

၇။ စီးပွားရေး နှင့် ကူးသန်းရောင်းဝယ်ရေး ဝန်ကြီးဌာန။

၈။ ဆက်သွယ်ရေး၊ စာတိုက် နှင့် ကြေးနန်း ဝန်ကြီးဌာန။

၉။ ဘဏ္ဍာရေး နှင့် အခွန်ဝန်ကြီးဌာန။

၁၀။ လူဝင်မှုကြီးကြပ်ရေး နှင့် ပြည်သူ့အင်အား ဝန်ကြီးဌာန။

၁၁။ လျှပ်စစ်စွမ်းအား ဝန်ကြီးဌာန။

၁၂။ ကျန်းမာရေး ဝန်ကြီးဌာန၊ မြန်မာနိုင်ငံ အစားအသောက်နှင့် ဆေးဝါးအာဏာပိုင်အဖွဲ့။

၁၃။ မွေးမြူရေးနှင့် ရေလုပ်ငန်း ဝန်ကြီးဌာန။

၁၄။ ဥက္ကဋ္ဌ၊ နိုင်ငံခြားမတည်ငွေရင်းတန်ဖိုး သတ်မှတ်ရေး အဖွဲ့ငယ်။

၁၅။ ဥက္ကဋ္ဌ၊ မြန်မာနိုင်ငံတော် ဗဟိုဘဏ်။

၁၆။ ညွှန်ကြားရေးမှူးချုပ်၊ ရင်းနှီးမြှုပ်နှံမှု နှင့် ကုမ္ပဏီများ ညွှန်ကြားမှု ဦးစီးဌာန။

၁၇။ ဦးဆောင်ညွှန်ကြားရေးမှူး၊ မြန်မာ့ ဆိပ်ကမ်းအာဏာပိုင်။

၁၈။ ညွှန်ကြားရေးမှူးချုပ်၊ အလုပ်သမား ညွှန်ကြားရေး ဦးစီးဌာန။

၁၉။ ညွှန်ကြားရေးမှူးချုပ်၊ ကုန်သွယ်ရေး ညွှန်ကြားမှု ဦးစီးဌာန။

၂၀။ ဦးဆောင်ညွှန်ကြားရေးမှူး၊ မြန်မာ့ ဆက်သွယ်ရေး လုပ်ငန်း။

၂၁။ ညွှန်ကြားရေးမှူးချုပ်၊ အကောက်ခွန် ဦးစီးဌာန။

၂၂။ ညွှန်ကြားရေးမှူးချုပ်၊ ပြည်တွင်း အခွန်များ ဦးစီးဌာန။

၂၃။ ဦးဆောင်ညွှန်ကြားရေးမှူး၊ မြန်မာ့ အာမခံ လုပ်ငန်း။